# မြန်မာနိုင်ငံဆိုင်ရာလွတ်လပ်သော စုံစမ်းစစ်ဆေးမှု ယန္တရား

# သတင်းလွှာ

အတွဲ (၃)၊ ၂၀၂၂ ခုနှစ်၊ မတ်လ။

**ဤစာစောင်အတွဲတွင်**



## ယန္တရား၏ အကြီးအကဲမှ အမှာစကား

ဂျီနီဗာ၊ ၂၀၂၂ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၈) ရက်။ ။ ကုလသမဂ္ဂ လူ့အခွင့်အရေးဆိုင်ရာ မဟာမင်းကြီးရုံး၏ မြန်မာနိုင်ငံဆိုင်ရာ ထုတ်ပြန်ချက်နှင့် ပတ်သက်၍ ကျွန်တော် အလွန်စိုးရိမ် ပူပန်မိပါသည်။ အဆိုပါ ထုတ်ပြန်ချက်အရ ယနေ့ ၂၀၂၂ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၈) ရက်နေ့တွင် မြန်မာနိုင်ငံ၏ ရဲနှင့် စစ်တပ်ဖွဲ့တို့က ဆန္ဒပြသူ လူအုပ်များအတွင်းသို့ သေနတ်ကျည်ဆံ အစစ်များဖြင့် ပစ်ခတ်မှု အပါအဝင် အင်အားသုံး ဖြိုခွင်းမှုများ လုပ်ခဲ့သောကြောင့် (၁၈) ဦးထက်မနည်း သေဆုံးပြီး (၃၀)ကျော် ဒဏ်ရာရခဲ့ကြောင်း ယုံကြည်စိတ်ချရသော အချက်အလက်များ ရရှိခဲ့သည်ဟု ဖော်ပြထား ပါသည်။ ထိုသို့ ဖြစ်စဉ်များမတိုင်မီ၊ ရာနှင့်ချီသော ဆန္ဒပြသူများ၊ စာနယ်ဇင်းသမားများ၊ ရွေးကောက်ခံ ကိုယ်စားလှယ်များနှင့် နိုင်ငံရေးလှုပ်ရှားသူများအား ဥပဒေကြောင်းအရ ရှင်းရှင်းလင်းလင်း မရှိပဲ ဖမ်းဆီးခဲ့ကြပြီး၊ အဖမ်းအဆီးနှင့် ပတ်သက်သော အချက်အလက်များကို အများအားဖြင့် အာဏာပိုင်များက ထုတ်ပြန်ခဲ့ခြင်း မရှိကြောင်းကိုလည်း ၄င်းထုတ်ပြန်ချက်တွင် ဖော်ပြထားပါသည်။

ငြိမ်းချမ်းစွာဆန္ဒပြသူများကို အင်အားအလွန်အကျွံသုံး နှိမ်နင်းသည်ဟု စွပ်စွဲသော လုပ်ဆောင်မှုများ နှင့်တကွ ထိုသို့ လုပ်ဆောင်မှုများကြောင့် သေကြေဒဏ်ရာရမှုများ၊ တရားလက်လွတ်ဖမ်းဆီးမှု၊ အစဖျောက်မှုများ အပါအဝင်၊ အထက်ပါ ထုတ်ပြန်ချက်တွင် ဖော်ပြထားသော လုပ်ရပ်များသည် ကြီးလေးသော လူ့အခွင့်အရေးချိုးဖောက်မှုများအပြင်၊ အရပ်သားများအား ကျယ်ကျယ်ပြန့်ပြန့် သို့မဟုတ်၊ စနစ်တကျ တိုက်ခိုက်ချက် ဆိုသော လူသားမျိုးနွယ်အပေါ် ကျူးလွန်သည့် ရာဇဝတ်မှုများ အဆင့်မြောက်နိုင်သည်။ ကျွန်တော်တို့ ယန္တရား၏ လုပ်ပိုင်ခွင့်အရ ထိုသို့ ဖြစ်ပျက်ခဲ့ခြင်းနှင့် ပတ်သက်သည့် သက်သေခံ အထောက်အထားများကို စုဆောင်းခြင်းနှင့် စိစစ်သုံးသပ်ခြင်းများ ပြုလုပ်သွားမည်ဖြစ်ပြီး၊ ရာဇဝတ်မှုဆိုင်ရာ တရားစွဲမှုများ လုပ်နိုင်သည့် အမှုတွဲများကိုလည်း တည်ဆောက်သွားမည် ဖြစ်ပါသည်။ မြန်မာပြည်သူများအပေါ် ထိုသို့ တိုက်ခိုက်မှုများ ရပ်တန်းက ရပ်ရပါမည်။

လွန်ခဲ့သောလက လူ့အခွင့်အရေးကောင်စီသည် "မြန်မာနိုင်ငံ၏ အကျပ်အတည်း အခြေအနေအတွင်း လူ့အခွင့်အရေးဆိုင်ရာ အကျိုးသက်ရောက်မှုများ" နှင့် ပတ်သက်သည့် အထူးအစည်းအဝေးတရပ်ကို ကျင်းပခဲ့ပါသည်။ အဆိုပါ အစည်းအဝေးတွင် "မြန်မာနိုင်ငံ စစ်တပ်ဖွဲ့က ဖေဖော်ဝါရီလ (၁) ရက်တွင် အရေးပေါ် အခြေအနေ ကြေညာခြင်းကို အလွန်စိုးရိမ်ကြောင်း တင်ပြထားသည့်" ဆုံးဖြတ်ချက် တရပ်ကို ကောင်စီအဖွဲ့ဝင်နိုင်ငံများက သဘောတူအတည်ပြုခဲ့ကြ၏။ ထိုဆုံးဖြတ်ချက်တွင် "မြန်မာ နိုင်ငံရှိ ရိုဟင်ဂျာမွတ်စလင်များနှင့် အခြားလူနည်းစုများအပေါ် ကျူးလွန်သည်ဟု စွပ်စွဲထားသည့် ရာဇဝတ်မှုများနှင့် ပတ်သက်၍ တရားမျှတမှုနှင့် တာဝန်ခံမှုများရှိစေကြောင်း သေချာစေရန် ဆက်လက် လုပ်ဆောင်နေသည့် လုပ်ငန်းစဉ်ကိုလည်း မှတ်သားထားကြောင်း" ကိုလည်း သဘောတူအတည်ပြုခဲ့ ကြပါသည်။ အဆိုပါကိစ္စရပ်များမှာ ခွဲခြား၍ မရနိုင်အောင် ဆက်စပ်နေပြီး၊ လွန်ခဲ့သည့် ရက်သတ္တပတ်များအတွင်းက အဖြစ်အပျက်များသည် ကျွန်တော်တို့၏ ယန္တရားကဲ့သို့သော

အဖွဲ့အစည်းများ၏ အရေးပါသော အခန်းကဏ္ဍကို မီးမောင်း ထိုးပြနေပါသည်။ ကျွန်တော်တို့၏ ယန္တရားသည် အတိတ်ကလုပ်ရပ်များအတွက် တာဝန်ခံမှုရှိစေရန်နှင့် အကြီးလေးဆုံးသော အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှုများ အနာဂါတ်တွင်လည်း မကျူးလွန်နိုင်ရေး သေချာစေရန် လုပ်ဆောင်လျက်ရှိပါသည်။

အဆိုပါ အထူးအစည်းအဝေးတွင် မြန်မာနိုင်ငံ၌ ပြစ်မှုကျူးလွန်သူများ ပြစ်ဒဏ်မှကင်းလွတ်ခွင့် ဆက်ရှိနေခြင်းကို စိုးရိမ်ကြောင်း ကောင်စီအဖွဲ့ဝင်နိုင်ငံအများအပြားနှင့်တကွ အရပ်ဘက်လူမှုအဖွဲ့ အစည်းများက တင်ပြခဲ့ကြပြီး၊ တရားမျှတမှုနှင့် တာဝန်ခံမှုတို့ ရှိလာအောင် အားထုတ်ဖို့ လိုအပ် ကြောင်းကိုလည်း အလေးပေး ပြောဆိုခဲ့ကြပါသည်။ လူ့အခွင့်အရေးဆိုင်ရာ မဟာမင်းကြီးရုံးနှင့်တကွ မြန်မာနိုင်ငံ လူ့အခွင့်အရေးဆိုင်ရာ ကုလသမဂ္ဂ အထူးကိုယ်စားလှယ်နှင့်အတူ ကျွန်တော်တို့၏ ယန္တရားနှင့်လည်း အပြည့်အဝ ပူးပေါင်းဆောင်ရွက်ရန်၊ မြန်မာနိုင်ငံတွင်း ဝင်ရောက်ခွင့်ပေးရန် ၄င်းတို့က တောင်းဆိုခဲ့ကြ၏။

ကျွန်တော်တို့ ယန္တရား၏ လုပ်ပိုင်ခွင့်မှာ "၂၀၁၁ ခုနှစ်မှစ၍ မြန်မာနိုင်ငံ၌ ဖြစ်ပွားခဲ့သော အကြီးလေးဆုံး အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှုများနှင့် အပြည်ပြည်ဆိုင်ရာဥပဒေချိုးဖောက်မှုများ"နှင့် ပတ်သက်သည့် သက်သေအထောက်အထားများကို စုဆောင်းရန် ဖြစ်ပါသည်။ ယန္တရား၏ လုပ်ငန်းတာဝန် သတ်မှတ်ချက်တွင် အပြည်ပြည်ဆိုင်ရာ ဥပဒေချိုးဖောက်ခြင်းဆိုရာ၌ လူ့အခွင့်အရေးများကို ကြီးလေးစွာ ချိုးဖောက်ခြင်းလည်း ပါဝင်ကြောင်း အတိအလင်း ဖော်ပြထားပါသည်။ ကျွန်တော်တို့ ယန္တရား၏ လုပ်ပိုင်ခွင့်တွင် ဆက်လက်၍ ထိုကဲ့သို့သော ရာဇဝတ်မှုများ ကျူးလွန်ခဲ့သည့် လူပုဂ္ဂိုလ် တဦးချင်းကို တာဝန်ခံမှုရှိစေရန်အတွက် နိုင်ငံအဆင့်၊ ဒေသတွင်းအဆင့် သို့မဟုတ် နိုင်ငံတကာအဆင့် တရားရုံးများတွင် တရားစွဲဆိုမှုများ လုပ်နိုင်ရန် အမှုတွဲများကိုလည်း ပြင်ဆင်သွားရန် ပါဝင်ပါသည်။ ကျွန်တော်တို့ ယန္တရား၏ ယာယီဖြစ်သော လုပ်ပိုင်ခွင့်သည် အဆုံးမရှိဖြစ်ပြီး ထိုလုပ်ပိုင်ခွင့်သည် မြန်မာနိုင်ငံ နယ်နိမိတ်အတွင်း ကျူးလွန်သည့် အဆိုပါ ရာဇဝတ်မှုများနှင့် အပြည်ပြည်ဆိုင်ရာ ဥပဒေ ချိုးဖောက်မှုများ အားလုံးအတွက် ဆက်လက် အကျုံးဝင်နေပါသည်။


မြန်မာနိုင်ငံဆိုင်ရာ

လွတ်လပ်သော

စုံစမ်းစစ်ဆေးမှုယန္တရား

အီးမေး။ ။ iimm@un.org

Signal။ ။ +၄၁ ၇၆ ၆၉၁ ၁၂၀၈


မြန်မာနိုင်ငံ၌ ကြီးလေးသော အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှုများအား ကျူးလွန်ခဲ့သူများကို တာဝန်ခံစေရေး သေချာစေရန်အတွက် ကျွန်တော်တို့ မြန်မာနိုင်ငံဆိုင်ရာ ယန္တရားဘက်က လုပ်ဆောင်နိုင်သည့် အပိုင်းကို ဆက်လက် လုပ်ဆောင်ဖို့ အခိုင်အမာ ပိုင်းဖြတ်ထားပြီး ဖြစ်ပါသည်။ မြန်မာနိုင်ငံ၌ အဆိုပါ ပြစ်မှုကျူးလွန်သူများ ပြစ်ဒဏ်ကင်းလွတ်ခွင့်ရှိနေခြင်းကို အဆုံးသတ်ရန် ဟူသော ကျွန်တော်တို့၏ ရည်ရွယ်ချက်မျိုး အလားတူ ရှိကြသူများမှ ကူညီပံ့ပိုးမှုများကိုလည်း ကျွန်တော်တို့က အလေးထား ကျေးဇူးတင်ရှိပါသည်။

## အဖွဲ့အစည်းဆိုင်ရာ နောက်ဆုံးသတင်း

ယန္တရား၏ နောက်ဆုံးအကြိမ်ထုတ် သတင်းစာစောင်ကို ၂၀၂၀ ခုနှစ် အောက်တိုဘာလတွင် ထုတ်ပြန်ပြီးချိန်မှစ၍၊ တစ်ကမ္ဘာလုံးဆိုင်ရာ ကူးစက်လွယ်ရောဂါကပ်ဘေးကြီးကြောင့် အလွန်ထူးခြား သည့် အခြေအနေများကြားတွင် ယန္တရားအနေနှင့် တိုးတက်မှုများ ဆက်လက်လုပ်ကိုင်နိုင်ခဲ့သည်။

ယန္တရားသည် ရုံးတွင်းမူဝါဒများနှင့် လုပ်ထုံးလုပ်နည်းများကို သက်ဆိုင်ရာ အပြည်ပြည်ဆိုင်ရာဥပဒေ၊ စံချိန်စံညွှန်းများနှင့်တကွ ကောင်းမွန်သော လုပ်ကိုင်ပုံများနှင့်အညီ ဆက်လက်၍ ချမှတ်ရေးဆွဲလျက် ရှိသည်။ သတင်းအချက်အလက်များနှင့် သက်သေခံအထောက်အထားများအား လုံခြုံစွာ သိမ်းဆည်း ထားနိုင်ရေးကို သေချာစေရန်အလို့ငှာ၊ မိမိတို့၏ ဒီဂျစ်တယ်လ်နှင့် ဆိုင်ဗာလုံခြုံရေး ကြိုးပမ်းမှုများကို ပိုမိုတောင့်တင်းခိုင်မာစေရန် အလေးပေးဆောင်ရွက်နေပါသည်။ ယန္တရားသည် မိမိ၏ လုပ်ပိုင်ခွင့်တွင်း

ကျူးလွန်ခံရသော ရာဇဝတ်မှုများ၏ သက်သေခံအထောက်အထားများကို စုဆောင်းရန်နှင့် ၎င်းတို့၏ အရေးပါပုံကို စိစစ်သုံးသပ်ရန် ဆက်လက်ဆောင်ရွက်နေပါသည်။ ၂၀၂၀ ခုနှစ်တွင် ယန္တရားသည် သတင်းအချက်အလက် စုစုပေါင်း ၄၁၆ GB ကျော် စုဆောင်းနိုင်ခဲ့ပြီး၊ အချက်အလက် ပစ္စည်းဥစ္စာများ စုစုပေါင်း ၃၅၁၇၂၄ ကို စိစစ်သုံးသပ်ရန် အတွက် တင်သွင်းဆောင်ရွက်နိုင်ခဲ့သည်။

စုံစမ်းစစ်ဆေးရေးလှုပ်ရှားမှုများကို ဆောင်ရွက်ရန်အတွက် ယန္တရား၏ ခရီးသွားလာရေး စွမ်းရည်မှာ COVID-19 ရောဂါကပ်ဘေးကြီး ကြောင့် ကန့်သတ်ခံနေရဆဲဖြစ်သော်လည်း၊ ၎င်းသည် လုံခြုံသော အီလက်ထရောနစ်ဆိုင်ရာ နည်းလမ်းများအရ သတင်းအချက်အလက် ရရှိနိုင်သော အရင်းမြစ်များနှင့် ဆက်သွယ်ဆောင်ရွက်ခြင်း၊ လူမှုကွန်ရက် ရင်းမြစ် စုံစမ်းစစ်ဆေးမှုများထံမှ သတင်းရယူခြင်းနှင့်တကွ သတင်းအချက်အလက်များအတွက် စာဖြင့် ရေးသားထားသည့် တောင်းခံစာများကို ပေးပို့ခြင်းတို့ကို ဆောင်ရွက်နေလျက်ရှိပါသည်။

ယန္တရားသည် အပြည်ပြည်ဆိုင်ရာ ရာဇဝတ်တရားရုံး (International Criminal Court) (ICC) နှင့် ဆက်လက် ပူးပေါင်းလုပ်ကိုင်ပြီး အပြည်ပြည်ဆိုင်ရာ တရားရုံး (International Court of Justice) (ICJ) ရှေ့မှောက်ရှိ အမှုအခင်းများ၏ နှစ်ဖက် အမှုသည်များဖြစ်သည့် ဂမ်ဘီယာ နှင့် မြန်မာ အမှုသည် နှစ်ဖက်လုံးထံ သတင်း အချက်အလက်များ ဝေမျှပေးကမ်းခဲ့ပါသည်။

ယန္တရားသည် မြန်မာနိုင်ငံ အစိုးရအား ၎င်း၏ ပူးပေါင်းဆောင်ရွက်မှုအတွက်နှင့် ၎င်း၏ နယ်မြေအတွင်း ဝင်ရောက်ခွင့်အတွက် ဆက်လက်၍ ဆက်သွယ်လျက်ရှိသည်။ ၂၀၂၀ ခုနှစ် အောက်တိုဘာလ ၃၁ ရက်နေ့တွင် ကုလသမဂ္ဂ အထွေထွေ ညီလာခံသည် ၎င်း၏ ဆုံးဖြတ်ချက် ၇၅/၂၃၈ အရ ထပ်မံ၍ ဆော်ဩလိုက်သည်မှာ၊  မြန်မာနိုင်ငံရှိ လူ့အခွင့်အရေး အခြေအနေနှင့်ပတ်သက်၍ အသစ်ခန့်အပ်ထားသည့် ကုလသမဂ္ဂအထူးကိုယ်စားလှယ်၊ မြန်မာနိုင်ငံဆိုင်ရာ လွတ်လပ်သော စုံစမ်းစစ်ဆေးမှုယန္တရားနှင့် မြန်မာနိုင်ငံနှင့်ပတ်သက်၍ လုပ်ကိုင် ဆောင်ရွက်နေသည့် အခြားသော ကမ္ဘာ့ကုလသမဂ္ဂ လုပ်ပိုင်ခွင့်ရရှိသူများနှင့် ယန္တရားများအနေနှင့် နိုင်ငံတစ်ဝန်းသို့ ဝင်ရောက်သွားလာ မှုများ လွယ်ကူချောမွေ့စေခြင်းနှင့် အကန့်အသတ်မရှိ ဝင်ရောက်ရန် ခွင့်ပြုခြင်းတို့ အပါအဝင်၊ အရေးပါသောနည်းလမ်းများဖြင့် ပူးပေါင်းလုပ်ဆောင်ပြီး ဆက်သွယ်ဆောင်ရွက်စေရန် မြန်မာနိုင်ငံအစိုးရအား အရေးပေါ် တောင်းဆိုထားပါသည်။

တရားမျှတသော စီရင်ချက်များကို တရားသူကြီးများက ပြုလုပ်နိုင်ရန်အတွက်၊ ၎င်းတို့လိုအပ်သည့် သတင်းအချက်အလက်အားလုံးကို ရရှိနိုင်ရေးအလို့ငှာ သက်သေခံအထောက်အထား၊ နစ်နာသူများနှင့် မျက်မြင်သက်သေများရှိရာ နယ်မြေတွင်းသို့ ယန္တရားက ဝင်ရောက်နိုင်ဖို့ အရေးကြီးပါသည်။ တစ်ချိန်တည်းမှာပင်၊ မျက်မြင်သက်သေများ လုံခြုံမှုရရှိစေရန်နှင့် ယန္တရားနှင့် ပူးပေါင်းဆောင်ရွက်မှုအတွက် တန်ပြန်ဒုက္ခပေးမှု တစ်ခုခုမှ အကာအကွယ်ရရှိရန် သေချာအောင်အတွက်လည်း ကုလသမဂ္ဂအဖွဲ့ဝင် နိုင်ငံများ၏ ပူးပေါင်းဆောင်ရွက်မှုကို လိုအပ်ပါသည်။

၂၀၂၀ ခုနှစ် ဒီဇင်ဘာလတွင် ယန္တရားသည် ၎င်း၏ ရုံးခန်းအဆောက်အအုံအသစ်ကို Palais des Nations သို့ ပြောင်းရွှေ့ခဲ့ပါသည်။ ၎င်းသည် ကုန်ကျစရိတ်အထိရောက်ဆုံးနှင့် နည်းပညာပိုင်းအားဖြင့်လည်း အသင့်တော်ဆုံးနည်းလမ်းဖြစ်ပြီး၊ ယန္တရားကစုဆောင်းထားသည့် သတင်းအချက်အလက်များ၏ လုံခြုံရေးနှင့် တည်တန့်ခိုင်မြဲမှုတို့ကို အာမခံနိုင်သည့်နေရာဖြစ်ကြောင်း ယန္တရားက ဆုံးဖြတ်ချက် ချမှတ်ပြီးနောက် အသစ်ဆောက်လုပ်ခဲ့သည့် ရုံးအဆောက်အအုံဖြစ်သည်။

ကမ္ဘာ့ကုလသမဂ္ဂ၏ ငွေကြေးနှင့် ငွေအရံသင့်သုံးစွဲမှု အကျပ်အတည်းကြောင့်၊ ကုမသမဂ္ဂရုံးချုပ်တစ်လျှောက် အတိုင်ပင်ခံများခန့်အပ် ခြင်းနှင့် ခရီးသွားစရိတ်များ အလျှော့ချခံရချက် အပါအဝင်၊ ကုန်ကျစရိတ်ဖြတ်တောက်မှုများသည် ယန္တရားအပေါ်သက်ရောက်မှုရှိခဲ့သည်။ ယန္တရား၏ ၂၀၂၁ ခုနှစ် ရသုံးခန့်မှန်းခြေ ငွေစာရင်းအတွက် အထွေထွေညီလာခံသည် အချိန်ပြည့်ရာထူးများ ၅၅ နေရာကို ခွင့်ပြုခဲ့သည်။ ယန္တရားသည် ကုလသမဂ္ဂ၏ ပုံမှန်ရသုံးခန့်မှန်းခြေငွေစာရင်းမှ မိမိ၏ ရသုံးငွေရရာ လမ်းများကို ထပ်ဆင့်၍ရရှိရန်အလို့ငှာ၊ သီးခြား စီမံကိန်းများအတွက် အပိုရ ရန်ပုံငွေရရှိနိုင်ဖို့ကိုလည်း ဆောင်ရွက်လျက်ရှိသည်။

# ကမ်းလင့်ဆက်သွယ်ခြင်း



ရိုဟင်ဂျာများအတွက် အပြည်ပြည်ဆိုင်ရာ တရားမျှတမှုနှင့် တာဝန်ခံမှုရှိရေး တွေ့ဆုံပွဲတွင် ပါဝင်ပြောကြားခဲ့သူများ (ဘင်္ဂလားဒေ့ရှ်မဟာမင်းကြီးရုံး၊ လန်ဒန်မြို့။)

အများပြည်သူအား ကမ်းလင့် ဆက်သွယ်ခြင်းသည် ယန္တရား အနေဖြင့် မိမိ၏ ရှုပ်ထွေးသော အလုပ်ကို ပိုမို နားလည်မှု ရှိစေရန်နှင့် သက်ဆိုင်ရာ ပါဝင်ပတ်သက်သူများ၏ စိတ်ချလက်ချ လုပ်ဆောင်မှုနှင့် ပူးပေါင်းဆောင်ရွက်မှုကို ရရှိရန်အတွက် ဦးစားပေးမှုအဖြစ် ဆက်လက် တည်ရှိနေသည်။ ယန္တရားသည် မိမိ၏ အဆုံးအစမရှိသည့် လုပ်ပိုင်ခွင့် အသိရှိရေးကို မြင့်တင်ခြင်းအားဖြင့် ကျူးလွန်သူများအား ရာဇဝတ်မှုအသစ်များ ကျူးလွန်ခြင်းမှလည်း တားဆီးပေးနိုင်မည်ဖြစ်သည်။

ယန္တရားသည် အဆင့်မြင့်များပါဝင်ပြီး၊ အများပြည်သူများ တက်ရောက်နိုင်သည့် အခမ်းအနားကျင်းပပွဲအမျိုးမျိုးတွင် ပါဝင်တက်ရောက်ခဲ့သည်။ ၎င်းတို့မှာ တစ်ကမ္ဘာလုံးဆိုင်ရာ ကူးစက်လွယ် ရောဂါကပ်ဘေးကြီးကြောင့် အွန်လိုင်းမှတဆင့် ကျင်းပခဲ့သည်။ ယန္တရား၏ အကြီးအကဲဖြစ်သူ Mr. Nicholas Koumjian သည် အဖွဲ့ဝင်နိုင်ငံများနှင့် အရပ်ဖက်အဖွဲ့အစည်းတို့မှ ကိုယ်စားလှယ်များနှင့် ရိုဟင်ဂျာများအတွက် အပြည်ပြည်ဆိုင်ရာ တရားမျှတမှုနှင့် တာဝန်ခံမှုရရှိရေးနှင့်ပတ်သက်၍ အောက်တိုဘာလတွင် အခမ်းအနားကျင်းပပွဲ တစ်ခုကို ပူးပေါင်း တက်ရောက်ခဲ့သည်။

"ကျွန်ုပ်တို့၏ လုပ်ပိုင်ခွင့်သည် မြန်မာနိုင်ငံ နယ်နိမိတ်တဝန်းလုံးအတွက် အကျုံးဝင်သည်" ဟု သူက ပြောကြားခဲ့သည်။ "၎င်းသည် ရိုဟင်ဂျာလူမျိုးအပေါ် ကျူးလွန်သည့် ရာဇဝတ်မှုများအတွက် အကျုံးဝင်သော်လည်း၊ အကယ်၍ အကြောင်းချင်းရာမှာ ကြီးလေးသော အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှု မြောက်လျှင်၊ မြန်မာနိုင်ငံရှိ မည်သည့်လူသားမျိုးနွယ်အပေါ်သို့ ကျူးလွန်သည့် ရာဇဝတ်မှုများ ဖြစ်စေ အကျုံးဝင်စေသည်။"

"နိုင်ငံထဲမှ ထွက်ပြေးခဲ့သည့် ဒုက္ခသည်များသည် အကြောင်းရင်းတစ်ခုခုကြောင့် ထွက်ပြေးခဲ့ရကြောင်းကို ကျွန်ုပ်တို့ နားလည်ပါသည်" ဟု သူကဆက်လက်ပြောကြားခဲ့သည်။ "ရာဇဝတ်မှုများအတွက် တာဝန်ရှိသူများ တာဝန်ခံရခြင်းသည် လူများ ပြန်လည် လာရောက်မည့် အခြေအနေများကို ဖန်တီးပေးရေးအတွက် အရေးကြီးသော အင်္ဂါရပ်တစ်ခု ဖြစ်ပါသည်။ လူများအနေဖြင့် ၎င်းတို့၏ ဆွေမျိုးများအပေါ် အလွန်ကြီးလေးသော ရာဇဝတ်မှုများအတွက် တာဝန်ရှိသူများ ရာဇဝတ်ပြစ်ဒဏ်ကျခံခြင်းမှ ကွင်းရှောင်ခြင်းဖြင့် အလားတူ ဆက်လက်ကျင့်သုံးမည့် အလားတူ တည်နေရာသို့ ပြန်သွားလိုကြမည် မဟုတ်ပါ။ အဆိုပါ အလွန်ကြီးလေးသော ရာဇဝတ်မှုများအတွက် ရာဇဝတ်ပြစ်ဒဏ်ကျခံခြင်းမှ ကွင်းရှောင်ခြင်းအား အဆုံးသတ်ရန်အတွက် ယန္တရား (သို့) လုပ်ငန်းစဉ်တစ်ရပ်ရှိခြင်းသည် အလွန်အရေးကြီးပါသည်။"

Mr. Koumjian သည် လူမျိုးတုံး သတ်ဖြတ်သည့် ရာဇဝတ်မှုကြောင့် နစ်နာသူများအတွက် အပြည်ပြည်ဆိုင်ရာ တရားမျှတမှုရရန် သင်ခန်းစာများ၊ အခွင့်အလမ်းများနှင့် အခက်အခဲ စိန်ခေါ်မှုများတို့နှင့်ပတ်သက်၍၊ ဒီဇင်ဘာလတွင် ဆွေးနွေးပွဲတစ်ရပ်တွင် ပါဝင်ဆွေးနွေးခဲ့ပါသည်။ Mr. Koumjian သည် ယန္တရား၏ လုပ်ပိုင်ခွင့်နှင့် လုပ်ငန်းကို ရှင်းလင်းပြောကြားခဲ့သည့်အပြင်၊ ၎င်းက ရင်ဆိုင်နေရသည့် မြန်မာနိုင်ငံ အာဏာပိုင်များက ယန္တရားအား နိုင်ငံတွင်း ဝင်ရောက်ခွင့်ကို ငြင်းပယ်ခြင်း အပါအဝင်၊ အဓိက အခက်အခဲ အချို့ကိုလည်း ရှင်းလင်းတင်ပြခဲ့သည်။

"ကျွန်တော် တို့သည် မြန်မာနိုင်ငံ အစိုးရနှင့် ဆက်သွယ်ရန်ဆောင်ရွက် လျက်ရှိပြီး၊အရေးကြီး သော လုပ်ပိုင်ခွင့် ကို ကျွန်တော်တို့ အကောင်အထည်ဖော်ရန် ကျွန်တော်တို့အား ခွင့်ပြုရန်အတွက် ၎င်းတို့၏ ပူးပေါင်းလုပ်ဆောင်မှုကို ရှာဖွေရင်း မြန်မာနိုင်ငံ အစိုးရအား ဆက်သွယ်ရန် ဆက်လက် ဆောင်ရွက်သွားပါမည်" ဟု Mr. Koumjian က ပြောကြားခဲ့သည်။

၎င်းက နစ်နာသူများနှင့် ဆွေးနွေးတိုင်ပင်မှု၏ အရေးကြီးပုံကိုလည်း ရှင်းပြခဲ့သည်။ ယန္တရားသည် နစ်နာသူများနှင့် ၎င်းတို့အနေဖြင့် ပြောရန်ရှိသည့်အရာကို နားထောင်ရန်နှင့် ၎င်းတို့အတွက် တရားမျှတမှုရရန်နှင့် တာဝန်ရှိသူများကို ရှာဖွေပေးရန်အတွက် ယန္တရားက လုပ်နိုင်သည့်အရာနှင့် မလုပ်နိုင်သည့်အရာတို့ကို ၎င်းတို့ နားလည်စေရန် တွေ့ဆုံဆွေးနွေးပွဲကို ယန္တရားအနေဖြင့် လုပ်နိုင်သမျှအားလုံး လုပ်ကိုင်ပေးနေပါသည်။

"ဤအခက်အခဲများ ကျော်လွှန်သွားစေရန်၊ ကျွန်တော်တို့သည် ဤနစ်နာသူများအတွက် တရားမျှတမှုအချို့ ဆောင်ကျဉ်းပေးနိုင်မည့် နိုင်ငံတွင်းတရားရုံးများဖြစ်စေ (သို့) အပြည်ပြည်ဆိုင်ရာ တရားရုံးများဖြစ်စေ၊ အခြားသူ အများအပြားတို့၏ ပူးပေါင်းဆောင်ရွက်မှုကို လိုအပ်မည်ဖြစ်ပါသည်" ဟု နိကိုးချုပ် ပြောကြားခဲ့ပါသည်။

ဤသို့သော အများပြည်သူပါဝင်သည့် ကျင်းပပွဲများအပြင်၊ ယန္တရား၏ ဝန်ထမ်းများသည် အဖွဲ့ဝင်နိုင်ငံများနှင့် အရပ်ဖက်လူ့အဖွဲ့အစည်း၏ ကိုယ်စားလှယ်များအပါအဝင်၊ ပါဝင်ပတ်သက်သူများနှင့် တွေ့ဆုံဆွေးနွေးပွဲများကိုလည်း ပြုလုပ်ခဲ့ပါသည်။ ယန္တရားသည် မိမိ၏ လုပ်ပိုင်ခွင့်နှင့်ပတ်သက်သည့် သတင်းအချက်အလက်များနှင့် သက်ဆိုင်သည့် ဖြစ်စဉ်ဖြစ်ရပ်များ၏ နောက်ဆုံးသတင်းများကို မိမိ၏ ဝက်ဘ်ဆိုက်၊ ဖေ့စ်ဘုတ်စာမျက်နှာနှင့် သတင်းစာစောင်တို့မှတစ်ဆင့် အင်္ဂလိပ်နှင့် မြန်မာစာနှစ်မျိုးလုံးဖြင့် ပုံမှန် သတင်းဖြန့်ပေးပါသည်။

ယန္တရားသည် ပါဝင်ပတ်သက်သူများနှင့် ကျယ်ကျယ်ပြန့်ပြန့် လူချင်းတွေ့ဆုံ ဆက်သွယ်ဆောင်ရွက်ရန် စိတ်ချရသည်နှင့် တစ်ပြိုင်နက် ခရီးထွက်ရန် စီစဉ်ထားပြီး ဖြစ်ပါသည်။ ယန္တရားအနေဖြင့် မိမိ၏ အလုပ်အကြောင်း ပါဝင်ပတ်သက်သူများအား သတင်းပေးရန်နှင့် တုံ့ပြန် သဘောထားမှုကို ကြားသိနိုင်ရန်အလို့ငှာ၊ မြန်မာနိုင်ငံနှင့်ပတ်သက်၍ လုပ်ကိုင်လျက်ရှိသော အရပ်ဖက်လူ့အဖွဲ့အစည်းများနှင့် စနစ်တကျ ဆက်သွယ်လုပ်ဆောင်မှုကို ဆက်လက်လုပ်ဆောင်သွားရန်လည်း အစီအစဉ်များရှိပါသည်။

## မကြာခဏ မေးတတ်သော မေးခွန်းများ

**နစ်နာသူများနှင့် မျက်မြင်သက်သေများ၏ ကိုယ်ရေးအချက်အလက် လျှို့ဝှက်ထားရှိရေး၊ လုံခြုံရေးနှင့် ကျန်းမာကောင်းမွန်ရေးတို့ကို ယန္တရားအနေဖြင့် မည်သို့ အာမခံမည်နည်း။**

ယန္တရားထံ သတင်းအချက်အလက် ပေးကမ်းသူများ၏ ကိုယ်ရေးလျှို့ဝှက်ထားရှိမှုနှင့် လုံခြုံရေးအား အကာအကွယ်ပေးမှု၏ အရေးကြီးပုံကို ယန္တရားသည် အသိအမှတ်ပြုပါသည်။ ကျွန်တော်တို့သည် ၎င်းသူတို့ ပေးထားသည့် သတင်း အချက်အလက်များ (သို့) မည်သူမည်ဝါဖြစ်ကြောင်း မည်သည့် သတင်းအချက်အလက်ကိုမျှ စီရင်ပိုင်ခွင့်ရှိသည့် တရားရုံးများ (သို့) အခြား အမှုသည်ဖက်များသို့ ပေးကမ်းရန် ၎င်းသူတို့၏ သဘောတူညီချက် မရှိဘဲ ဝေမျှဖလှယ်ပေးမည် မဟုတ်ပါ။ အလားအလာရှိသော သတင်းအချက်အလက်ပေးသူများ အနေဖြင့်၊ သတင်း အချက်အလက် တစ်ခုခုကို မပေးကမ်းမီ၊ ဆက်သွယ်မှု တစ်ရပ်ရပ်ကို လုံခြုံစွာ ဆောင်ရွက်ထားသည်ကို သေချာစေရန်အတွက် ၎င်းတို့အနေဖြင့် ယန္တရားနှင့် ကနဦးဆက်သွယ်ရန် တိုက်တွန်းပါသည်။

ယန္တရားသည် မိမိ၏ လုပ်ငန်းတွင် နစ်နာသူအခွင့်အရေးနှင့်လုံခြုံမှု ဦးစားပေးသည့် နည်းလမ်းကိုလည်း သေချာစေပါသည်။ ယန္တရားသည် မိမိလုပ်ငန်းရှေ့တိုးဆောင်ရွက်ရန် သိသိသာသာ အထောက်အကူ ပြုမည့် နစ်နာသူများ သာလျှင် လူတွေ့မေး မြန်းမည်ဖြစ်သည်။ နစ်နာသူ အများအပြားအား လူ့အခွင့်အရေး မှတ်တမ်းတင်ခြင်း ရည်ရွယ်ချက်များအတွက် ယခင်က လူတွေ့မေးမြန်းခဲ့ပြီးဖြစ်သည်ကို ယန္တရားက အသိအမှတ်ပြုပြီး နောက်ထပ် စိတ်ဒဏ်သင့်စေမှုကို ဦးတည်နိုင်မည့် မလိုလားအပ်သော ပုံတူ ဖြစ်ရပ်များကို တားဆီးရန် ကြိုးစား ဆောင်ရွက် မည်ဖြစ်ပါသည်။ ယန္တရားသည် မိမိ၏ မျက်မြင်သက်သေ အကာအကွယ်ပေးရေးနှင့် ပံ့ပိုးမှု စွမ်းဆောင်ရည်ကို မျက်မြင်သက်သေများ၏ သီးခြား လိုအပ်ချက်များနှင့်ကိုက်ညီမှုကို ရည်ရွယ်၍ ဆောက်တည်သွားခြင်းကိုလည်း ဆောင်ရွက်နေလျက်ရှိသည်။

**ယန္တရားသည် မိမိ၏ လုပ်ငန်း၌ လိင်ပိုင်းဆိုင်ရာ အကြမ်းဖက်မှုနှင့် လိင်အမျိုးအစား-အခြေခံ အကြမ်းဖက်မှုကို မည်ကဲ့သို့ ပူးပေါင်းလုပ်ဆောင်မည်နည်း။**

လိင် ပိုင်းဆိုင်ရာ ရာဇဝတ်မှု များနှင့် လိင်အမျိုးအစားအခြေခံ ရာဇဝတ်မှုများကို ထိရောက်စွာ စုံစမ်းစစ်ဆေးခြင်းနှင့် တရားစွဲဆိုခြင်း အတွက် အခက်အခဲနှင့် အတား အဆီး အများ အပြားရှိသည်ဟု ယန္တရားသည် သိရှိထားပါသည်။ မိမိ၏ လုပ်ငန်း၌ ဤရာဇဝတ်မှု များကို ရာဇဝတ်မှု အစပျိုးရာနှင့်ဆက်လက်ဖြစ်ပေါ်ရာနေရာမှ နေရာမှနေ၍ သီးခြား အာရုံစိုက် ရမည့်အပြင် ပြစ်မှုကျူးလွန်ရခြင်း၊ ပြစ်မှု၏ ပြင်းထန်မှုနှင့် အဆိုပါ ပြစ်မှုများ၏ သက်ရောက်မှုတို့၏ အပြည့်အစုံ အတိုင်းအတာ ကိုလည်း သီးခြား အာရုံစိုက်ရန် ယန္တရား အနေဖြင့် သေချာစေမည် ဖြစ်သည်။ ယန္တရားသည် ကလေးများ အပါအဝင် နစ်နာသူများနှင့် မျက်မြင် သက်သေများတို့နှင့် အပြန်အလှန် ဆက်ဆံမှု၊ ဤရာဇဝတ်မှုများကို စုံစမ်းစစ်ဆေး ခြင်း၌ သက်ဆိုင်ရာ အတွေ့အကြုံနှင့် ကျွမ်းကျင်မှုရှိသည့် အရာထမ်း အမှုထမ်း အများ အပြားကို အလုပ် ခန့်အပ် ခဲ့သည်။ ယန္တရားသည် ဤကဏ္ဍများတွင် မိမိ၏ အရာထမ်း အမှုထမ်း အားလုံးအား ပုံမှန် လေ့ကျင့် သင်တန်း ပေးရန်ကိုလည်း သေချာစေမည် ဖြစ်သည်။ ယန္တရားအနေဖြင့် လိင်ဆိုင်ရာ ရာဇဝတ်မှုများနှင့် လိင်အမျိုးအစား-အခြေခံ ရာဇဝတ်များကို အဆိုပါ ရာဇဝတ်မှုများ ကျူးလွန်ခံ ရသည့် သူများ၏ ပြောဆို သံများနှင့် လိုအပ် ချက်များကို ထည့်သွင်း အရေးယူပေး ရန် အာမခံမည့် နည်းလမ်းဖြင့် ဖြေရှင်းရန်အတွက် ထိရောက်စွာ လုပ်ကိုင်ပေးရန် လုပ်ထုံး လုပ်နည်း များနှင့် လမ်းညွှန်များ ကို ဖော်ဆောင်ပေးခဲ့သည်။

**လူမှုရေးကွန်ရက် ရင်းမြစ် စုံစမ်းစစ်ဆေးမှုများ (open source investigations) သည် ရာဇဝတ်မှုများ၏ သက်သေခံအထောက်အထား ကောက်ခံစုဆောင်းရေးအတွက် အဘယ်ကြောင့် အရေးကြီးပါသနည်း။**

လူမှုကွန်ရက် ရင်းမြစ် စုံစမ်းစစ် ဆေးမှုများ (Open source investigations) သည် အွန်လိုင်းတွင် အခြေခံ အားဖြင့် တွေ့ရှိရသည့် အများပြည်သူအားဖြင့် ရရှိနိုင်သော သို့မဟုတ် "ရနိုင်သော ရင်းမြစ်" သတင်း အချက်အလက် သို့မဟုတ် နည်းလမ်း များ မှတစ်ဆင့် စုံစမ်းစစ်ဆေးမှုများ ဆောင်ရွက်ခြင်း၏ နည်းလမ်း တစ်ရပ်ဖြစ်သည်။ ဤကဲ့သို့သော ဒီဂျစ်တဲလ်နည်းအရ သတင်းအချက်အလက် စုဆောင်းခြင်းနှင့် စူးစမ်းသုံးသပ်ခြင်း အမျိုးအစားသည် ရာဇဝတ်မှုဆိုင်ရာ စုံစမ်းစစ်ဆေးမှုများ အထူးသဖြင့် စုံစမ်းရေးမှူးများအနေဖြင့် ရာဇဝတ်မှုဖြစ်ပွားရာ အခင်းဖြစ်နေရာသို့ အချိန်မီ လူကိုယ်တိုင် သွားရောက်၍ မရနိုင်သည့်အခါ ပိုမို၍ အသုံးဝင် လာခဲ့သည်။ မိုဘိုင်းဖုန်းများမှာ ယခင်က အသုံးပြုဘူး သည်ထက် ပိုမို၍ အသုံးကျလာသည့်အလျှောက် ဝေးလံခေါင်းပါး နေရာများရှိလူများသည် ကြီးလေးသော အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှု မြောက်သည့် အဖြစ်အပျက်များကို ယခင်က မဖြစ်နိုင်သောနည်းလမ်းများဖြင့် မှတ်တမ်းတင်နိုင်ပြီး တင်ပို့ပေးနိုင်ကြသည်။ စုံးစမ်းစစ်ဆေးရေးမှူးများသည် ဤဒီဂျစ်တဲလ် သတင်းအချက်အလက်များကို ၎င်းတို့၏ စုံစမ်းစစ်ဆေးမှု အစိတ်အပိုင်းအဖြစ် ကြည့်ရှုနိုင်သည်၊ သိမ်းဆည်းထားနိုင်သည်၊ အတည်ပြုနိုင်ပြီး စူးစမ်းသုံးသပ် နိုင်ကြပါသည်။ အတည်ပြုခြင်းနှင့် စူးစမ်း သုံးသပ်ခြင်းကို ပြင်းပြင်းထန်ထန် ဆောင်ရွက်ကြသော်လည်း လူမှုကွန်ရက် ရင်းမြစ်စုံစမ်း စစ်ဆေးမှုများ၏ မရှိမဖြစ်လိုအပ်သည့် အစိတ်အပိုင်းကိုသာ ဆောင်ရွက်ကြသည်၊ အထူးသဖြင့် အင်တာနက်ပေါ်၌ မှားယွင်းသတင်းများနှင့် "နက်ရှိုင်းသည့် အတုအယောင်များ" ပြည့်နက် နေသော ကြောင့်ဖြစ်သည်။ အွန်လိုင်းတွင် တင်ပို့ထားသည့် သတင်းအပိုင်းအစတစ်ခုကို တရားရုံး တစ်ရုံး၌ မတင်သွင်းနိုင်မီ အဆင့်ဆင့် အချက် အများအပြား ဆောင်ရွက်ရန် လိုအပ်သော်လည်း အဆိုပါ သက်သေအထောက်အထားကို ပြည်တွင်းနှင့် အပြည်ပြည်ဆိုင်ရာ ရာဇဝတ်မှုဆိုင်ရာ စုံစမ်းစစ်ဆေးမှုများ နှစ်မျိုးလုံး၌ အတူတူ ပိုမို အသုံးများကြသည်။

လူမှုကွန်ရက်ရင်းမြစ် သတင်း အချက်အလက် များကို အဓိက သတင်း အချက်အလက်အဖြစ် တင်ပြခြင်းအပြင် အခြားသော သက်သေခံ အထောက်အထား အမျိုးအစားအတွက် မျက်မြင်သက်သေ ထွက်ဆိုချက် သို့မဟုတ် ကျူးလွန်သူနှင့် ရာဇဝတ်မှုအကြား အဆက်အစပ်ကို ထူထောင်ရန် သက်သေအထောက်အထား အချိတ်အဆက်အဖြစ်ကဲ့သို့ ထောက်ခံသည့်သတင်းအချက်အလက်အဖြစ် တင်ပြခြင်းအတွက်လည်း အသုံးပြုနိုင်ပါသည်။ လူမှုကွန်ရက်ရင်းမြစ်မှ ရရှိနိုင်သော သတင်းအချက်အလက် ပုံစံအမျိုးမျိုး ရှိပါသည်၊ ၎င်းတို့ကို လူမှုကွန်ရက်များရှိ အသုံးပြုသူတင်ပို့ထားသည့် တင်ပို့ချက်ဖြစ်သည့် ဝက်ဘ်ဆိုက်များတွင် ရရှိနိုင်သည့် ဓါတ်ပုံများ၊ ဗီဒီယိုများ၊ အသံဖိုင်များနှင့် စာရွက်စာတမ်းများ၊ နိုင်ငံအေဂျင်စီရုံးများမှ ထုတ်ဝေသည့် သတင်း အချက်အလက်များ၊ သတင်းထောက်များ၊ အရပ်ဖက်လူမှုအဖွဲ့အစည်းများ (သို့) တက္ကသိုလ်ကျောင်းများမှ တင်သွင်းသည့် တင်ပို့ချက်များ၊ ကမ္ဘာ့မျက်နှာပြင်ပေါ် ဖြစ်ပျက်ဓါတ်ပုံများ၊ သယ်ယူပို့ဆောင်ရေး ထောက်လှမ်းအချက်အလက်များနှင့် ဆက်စပ်ရာ အချက်အလက်များနှင့် ကော်ပိုရေးရှင်း အဆောက်အဦးများ၊ ပိုင်ဆိုင်မှုနှင့် ငွေကြေးကိစ္စများတို့နှင့်ပတ်သက်သည့် အစီရင်ခံချက်များ အပါအဝင်၊ ၎င်းတို့ကို စုံစမ်းစစ်ဆေးရေးမှူးများက စိတ်ဝင်စားကြသည်။